# လုပ်ငန်းဆောင်ရွက်မှုအကျဉ်းချုပ်

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ ပို့ဆောင်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် ပုဂ္ဂလိကကုမ္ပဏီလီမိတက်ဖြစ်သည့် စေကင်းဒတ်မြန်မာကုမ္ပဏီလီမိတက် နှစ်ဖွဲ့တို့သည် အမ်အက်(စ်) ဝု(ဒ်) ဝါ(ဒ်)ကုမ္ပဏီလီမိတက် ဖက်စပ်ကုမ္ပဏီကို ၁၉၅၀ ပြည့်နှစ် အထူးကုမ္ပဏီအက်ဥပဒေအရ မြန်မာနိုင်ငံတွင် အများနှင့်မသက်ဆိုင်သော ဖက်စပ်ကုမ္ပဏီ ဖွဲ့စည်းတည်ထောင်၍၊ မြန်မာ့သင်္ဘောကျင်းပိုင်လုပ်ငန်းနယ်မြေ၌ တည်ရှိပြီးသား သစ်ထုတ်လုပ်ရေးစက်ကိရိယာများ အပြင် အခြားစက်ကိရိယာများ တိုးချဲ့သုံးစွဲ၍၊ တန်ဘိုးမြင့် သစ်ပစ္စည်းများကိုထုတ်လုပ်ပြီး ၊ ပြည်တွင်းနှင့်ပြည်ပရှိ ဈေးကွက်များတွင်ကူးသန်းရောင်းဝယ်ရန်ဖြစ်ပါသည်။ ဖက်စပ်ကုမ္ပဏီ၏ ရင်းနှီးမြှုပ်နှံမည့် ငွေရင်း ကျပ် ၁၀၀၀၀၀၀၀၀ (ကျပ်သန်းတစ်ရာတိတိ) ဖြစ်ပြီး၊ ပေးသွင်းပြီးရင်းနှီးငွေကျပ် ၂၂၆၆၆၀၀၀ (ကျပ်သန်းနှစ်ဆယ့်နှစ် နှင့် ခြောက်သိန်း ခြောက်သောင်း ခြောက်ထောင်တိတိ)ဖြစ်ပါသည်။ အကျိုးတူရှယ်ယာထည့်ဝင်ခြင်း အချိုးနှင့် အမြတ်ခွဲဝေခြင်းကို (၅၅း၄၅) ရာခိုင်နှုန်းစီသဘောတူကြ ပါသည်။ လုပ်ငန်းစီမံခန့်ခွဲမှုကို မြန်မာ့သင်္ဘောကျင်းလုပ်ငန်းမှ ဒါရိုက်တာ (၃) ဦး စေကင်းဒတ်မြန်မာကုမ္ပဏီလီမိတက်မှ ဒါရိုက်တာ (၃) ဦး ပါဝင်သည့် ဒါရိုက်တာဘုတ်အဖွဲ့ကို ဖွဲ့စည်း ဆောင်ရွက်ရန်ဖြစ်ပါသည်။ စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာ၌ ၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ် ရန် လေ၊ ရေ၊ မြေနှင့်ပတ်ဝန်းကျင်ညစ်ညမ်းမှုကို ထိန်းသိမ်းကာ၊ လုပ်ငန်းကို ဆောင်ရွက်လုပ်ကိုင်မည်ဖြစ်ပါသည်။

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့

Telex 21368 INVEST BM
Fax : 095 - 01 - 82101

တယ်လီဖုန်း - ၇၂၀၀၉
- ၇၂၂၁၉
- ၇၂၈၇၀

စာအမှတ်၊ က-၁/မ-၀၃၅/၉၅(၁၀၂၀)၊
ရက်စွဲ၊ ၁၉၉၅ ခုနှစ်၊ အောက်တိုဘာလ ၃ ရက်။

အကြောင်းအရာ။ ။ မြန်မာ့သစ်တော ကျင်းလုပ်ငန်းနှင့် Standard Myanmar Company Ltd. တို့ဖက်စပ်ပြု၍သစ်သားထည်လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၂-၆-၉၅ ရက်စွဲပါစာအမှတ်၊ ၁၅၅-ပဆ/ ရုံး(၁)၉၄(၂၂/၆)။

၁။ အထက်ရည်ညွှန်းပါစာဖြင့်မြန်မာ့သစ်တော ကျင်းလုပ်ငန်းနှင့် Standard Myanmar Company Ltd. - ဖက်စပ်ပြု၍ Superior Yangon Wood Product ကုမ္ပဏီမှ ထောင်၍သစ်သားထည်လုပ်ငန်းများ ဆောင်ရွက်ရန်အဆိုပြုတင်ပြလာသည့်ကိစ္စကို ၂၀-၇-၉၅ နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၁၀/၉၅ကြိမ် မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေး အဝေးတွင်တင်ပြခဲ့ရာအဆိုပါ အစည်းအဝေးမှယင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ ဆွေးနွေးညှိနှိုင်းထားရန်ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍အထက်ပါအစည်းအဝေးဆုံးဖြတ်ချက်အား သိရှိနိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

( ခိုင်ခိုင် )
တွဲဖက်အတွင်းရေးမှူး

ပို့ဆောင်ရေးဝန်ကြီးဌာန။

မိတ္တူကို -
ဦးဆောင်ညွှန်ကြားရေးမှူး
Standard Myanmar Company Ltd.

[illegible]
Legal - 6.10.95
Appraisal. 6.10.95

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
၆၅၃/၆၆၇၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့

Telex 21368 INVEST BM
Fax : 095 - 01 - 82101

တယ်လီဖုန်း: - ၇၂၀၀၉
- ၇၂၂၁၉
- ၇၂၈၇၀

စာအမှတ်၊ ရက-၁/မ-၀၃၅/၉၅(~~၅၅၉~~ ၅၈၂)။
ရက်စွဲ၊ ၁၉၉၅ ခုနှစ်၊ ဇူလိုင် ၁၈ ရက်

အကြောင်းအရာ။ ။သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ။

ရည်ညွှန်းချက်။ ။ပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၂-၆-၉၅ ရက်စွဲပါစာအမှတ်၊ ၁၅၅-ပဆ/ဒု(၁)၉၄(၂၂/၆)။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍မြန်မာ့သင်္ဘောကျင်းလုပ်ငန်းနှင့် Standard Myanmar Co., Ltd. တို့ပူးပေါင်း၍ Superior Yangon Wood Product ကုမ္ပဏီအမည်ဖြင့်ဖွဲ့စည်းပြီးသစ်ကုန်ချောပစ္စည်းထုတ်လုပ်ခြင်းပြည်တွင်းပြည်ပကူးသန်းရောင်းဝယ်ရေးလုပ်ငန်းကိုမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းပါစာဖြင့်ကော်မရှင်သို့တင်ပြလျှောက်ထားလာပါသည်။ (ပူးတွဲ)

၂။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းအခန်း (၃) အပိုဒ် (၁၁) ပါပြဋ္ဌာန်းချက်နှင့်အညီအဆိုပြုချက်ကိုစိစစ်ရာတွင်သက်ဆိုင်ရာအဖွဲ့အစည်းများ၏သဘောထားများကိုတောင်းခံရယူရန်လိုအပ်ပါသဖြင့်အဆိုပြုချက်ပါလုပ်ငန်းနှင့်စပ်လျဉ်း၍သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်ကိုပြန်ကြားပါရန် မေတ္တာရပ်ခံအပ်ပါသည်။

(နိုင်နိုင်)
တွဲဖက်အတွင်းရေးမှူး

သစ်တောရေးရာဝန်ကြီးဌာန။

ပူးတွဲ- ဖက်စပ်လုပ်ငန်း၏ပဋိညာဉ်စာချုပ်